# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-....၁၆၁..../ ၂၀၀၃ ။ ၂၀၀၃ ခုနှစ်ဖေဖော်ဝါရီလ ၁၉ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဒေါ်နန်းစံအိုင်

(ခ) အဘအမည် ဦးတိုင်းလှ

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ကတတ(နိုင်)၀၂၁၉၁၂

(ဃ) နေရပ်လိပ်စာ အမှတ်-၁၉(ဘီ)၊ ကိုက်ရသွန်လမ်း၊ ဒဂုံမြို့နယ်၊
ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ချမ်းဆောင်မှုအထည်ချုပ်စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်(Charming Garments Manufacturing Co.,Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား C M P စနစ်ဖြင့်အထည်ချုပ်လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေကွက် အမှတ်(၃၀)၊ ဆိပ်ကမ်းသာလမ်း စက်မှုဇုန်(၂)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း ။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၁၈.၅၁) သန်း (ကျပ်တစ်ဆယ့်ရှစ်သန်း၊ ငါးသိန်း တစ်သောင်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

လျှို့ဝှက်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့် ကြော်ငြာစာအမှတ်၊ ၃၄ /၂၀၀၃ (မနသ)

ရန်ကုန်မြို့၊ ၁၃၆၄ ခုနှစ်၊ တပို့တွဲလပြည့်ကျော် ၃ ရက်

(၂၀၀၃ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၉ ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်(Charming Garments Manufacturing Co., Ltd)သည် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ဒေါနန်းစံဆိုင် အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၂)၊ ဆိပ်ကမ်းသာလမ်း၊ မြေကွက်အမှတ် (၃၈)ရှိ မြေ(၁.၄၃၃)ဧက (၅၇၉၉.၁၅ စတုရန်းမီတာ)နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦကို ငှါးရမ်းဆောင်ရွက် လျက်ရှိသော CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာပါသည်။ ယင်းလုပ်ငန်းမှာ မူလက ကော်မရှင် ခွင့်ပြုမိန့်ဖြင့် မဟုတ်ပဲ အထည်ချုပ် လုပ်ငန်းဆောင်ရွက်လျက်ရှိပါသည်။ ယခုအခါ CMP လက်ခစား လုပ်ငန်းများ စိစစ်ရေး ကော်မတီမှ တစ်ဆင့် စိစစ်ပြီး တင်ပြလာပါ၍(၆-၁-၂၀၀၃)နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁/၂၀၀၃)အစည်းအဝေးသို့တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၁၆-၁-၂၀၀၃)နေ့တွင် ကျင်းပပြုလုပ်သော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၃/၂၀၀၃)အစည်းအဝေး သို့ဆက်လက်တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေး သဘောတူညီချက်အရအစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၆-၂-၂၀၀၃)နေ့တွင်ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၄/၂၀၀၃) ကြိမ်မြောက် အစည်းအဝေး သို့တင်ပြခဲ့ရာ အစည်းအဝေးမှသဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Charming Garments Manufacturing Co., Ltd) အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ CMP စနစ်ဖြင့် အထည်ချုပ် လုပ်ခြင်း လုပ်ငန်း ဆက်လက်ဆောင်ရွက် နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၅၉၅/၂၀၀၃ ကို ထုတ်ပေး လိုက်သည်။

၂။ ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Charming Garments Manufacturing Co., Ltd) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ တရားဝင် ခွင့်ပြုသည့် (၁၉-၂-၂၀၀၃) နေ့မှအစပြု၍ တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃)နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထား ရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့်နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက် နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ (တစ်)နှစ်အတွင်း လုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထား ရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေ ကို သတ်မှတ် သည့် နှုန်း အတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှတင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃ (ဈ) အရ ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက် ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့်စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့်တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Charming Garments Manufacturing Co., Ltd) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ်ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Charming Garments Manufacturing Co., Ltd)သည် လုပ်ငန်းဆောင်ရွက်မှုအတွက် နိုင်ငံခြားငွေဖြင့် ရရှိသော အမှန်တကယ် ချုပ်ခရငွေများကို မြန်မာ့ နိုင်ငံခြားကုန်သွယ်မှုဘဏ်/မြန်မာ့ ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်း ရောင်းဝယ်ရေးဘဏ်ရှိ မိမိ၏ ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းစေရမည်။ အလုပ်သမားများအတွက် လုပ်အားခပေးရန် အမှန်တကယ် ချုပ်ခရငွေ (နိုင်ငံခြားငွေ) များကို သတ်မှတ်ခွင့်ပြုထားသည့် MONEY CHANGER များတွင် FEC လဲလှယ်ပြီး မိမိတို့၏ အလုပ်သမားများအား လုပ်ခလစာများပေးရမည်။

၆။ ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Charming Garments Manufacturing Co., Ltd) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစု ထားရှိရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ် သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီး ဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Charming Garments Manufacturing Co., Ltd) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၉။ ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Charming Garments Manufacturing Co., Ltd) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်လာစေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေးအစီအမံများကို ဝန်ခံဂတိပြုထားသည့်အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက် မကွက် အစီရင်ခံရမည်။

၁၀။ ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Charming Garments Manufacturing Co., Ltd) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယား များဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/ အောက်တိုဘာလများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။

၁၁။ ဤကော်မရှင်မှ တရားဝင်ခွင့်ပြုသည့် (၁၉-၂-၂၀၀၃)နေ့ကို ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Charming Garments Manufacturing Co., Ltd) ၏ အဆိုပြုလုပ်ငန်း စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့အဖြစ်သတ်မှတ်သည်။

၁၂။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို ဆက်လက် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤ ကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Charming Garments Manufacturing Co., Ltd) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ခြင်းမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်း နည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၅(င)အရ နောင်တွင် မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

စာအမှတ်၊ ရက–၁/မ–၈၈၄/၂၀၀၂ (၄၈ ၅၃-၃)

ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၉ ရက်။

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။

၃။ အစိုးရအဖွဲ့ရုံး။

၄။ ကာကွယ်ရေး ဝန်ကြီးဌာန၊ တပ်မတော် ထောက်လှမ်းရေး ဌာနချုပ်ရုံး၊ (ပြည်တွင်း ထောက်လှမ်းရေး ဌာန)။

၅။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။

၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၇။ အလုပ်သမား ဝန်ကြီးဌာန။

၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။

၁၁။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။

၁၂။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

၁၃။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

၁၄။ ဥက္ကဋ္ဌ၊ CMP လက်ခစားလုပ်ငန်းများ စိစစ်ရေးကော်မတီ။ (အမှတ်(၁) စက်မှု ဝန်ကြီးဌာန)

၁၅။ ဥက္ကဋ္ဌ၊ နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။

၁၆။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။

၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ် လုပ်ငန်း။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၄။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၇။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၉။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၃၀။ မန်နေးဂျင်း ဒါရိုက်တာ၊ ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Charming Garments Manufacturing Co., Ltd)။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၃၅၁/၂၀၀၂ (၄၁၇၅-၇)။
ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ ဇန်နဝါရီလ ၁၀ ရက်။

## ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Charming Garment Manufacturing Co., Ltd.) သည်CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့် ရရှိရေးအတွက် CMP လက်ခစား လုပ်ငန်းများ စိစစ်ရေးကော်မတီမှ စိစစ်ထောက်ခံ တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၆-၁-၂၀၀၃) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁/၂၀၀၃) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်ကို နောက်ဆက်တွဲ(၁) အဖြစ် တင်ပြထား ပါသည်။

၂။ လုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ (FEC ၈၄၀၉၈ အပါအဝင်) စုစုပေါင်း ကျပ် (၁၈.၅၁)သန်း ဖြစ်ပါသည်။ ယင်းတွင် ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း တန်ဖိုး ကျပ် (၈.၅၀) သန်း၊ စက်ပစ္စည်း ကိရိယာ တန်ဖိုး (FEC ၈၄၀၉၈ အပါအဝင်) ကျပ် (၁၀.၀၁)သန်း ထည့်ဝင် ရင်းနှီးထားခြင်း ဖြစ်ပါသည်။ စက်ပစ္စည်း ကိရိယာများကို ပြည်တွင်းမှ ဝယ်ယူ အသုံးပြုထားပါသည်။

၃။ ယင်းလုပ်ငန်းကိုဆောင်ရွက်ရန်အတွက် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ မန်နေးဂျင်း ဒါရိုက်တာဖြစ်သူ ဒေါ်နန်းစံဆိုင် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော အမှတ် (၃၈)၊ ဆိပ်ကမ်းသာလမ်း၊ စက်မှုဇုန်(၂)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းရှိမြေ (၁.၄၃၃) ဧက (၅၇၉၉.၁၅ စတုရန်းမီတာ)နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦကို ငှားရမ်း၍ လုပ်ငန်းဆောင်ရွက်လျက်ရှိပါသည်။

၄။ လုပ်ငန်းမှ ထုတ်လုပ်မှု၏ (၉၉) ရာခိုင်နှုန်းကို CMP စနစ်အရ ပြည်ပသို့ တင်ပို့မည်ဖြစ်ပြီး၊ ကျန်ပယ်ထည် Reject (၁) ရာခိုင်နှုန်းအား ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေး နှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ဒါဇင်) | CMP ချုပ်ခ (US$/Doz) | ပြည်တွင်းရောင်း (ကျပ်/ဒါဇင်) |
|---|---|---|---|---|
| ၁။ | Jacket | ၁၅၇၀၀ | ၆.၄၀ | ၁၈၄၀၀ |
| ၂။ | Shirt | ၃၀၆၀၀ | ၃.၉၀ | ၁၄၈၀၀ |
| ၃။ | Pant | ၂၅၄၀၀ | ၄.၄၀ | ၁၇၂၀၀ |
| ၄။ | Skirt | ၃၀၆၀၀ | ၃.၂၀ | ၁၁၂၀၀ |

၅။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့်ပုံမှန်နှစ်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၁၅.၂၁ | ၂.၅၅ | ၁၇.၇၆ |
| (ခ) | အသုံးစရိတ် | ၁၃.၈၉ | ၀.၈၆ | ၁၄.၇၅ |
| (ဂ) | အသားတင်အမြတ် | ၁.၃၂ | ၁.၆၉ | ၃.၀၁ |

၆။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၃)နှစ်နှင့် (၄)လ ဖြစ်ပြီး၊ အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၄.၉၉)ရာခိုင်နှုန်း ဖြစ်ပါသည်။

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| | | | |
|---|---|---|---|
| (က) | ဝင်ငွေခွန် | ကျပ် | ၀.၅၆ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀.၀၅ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် | ၁.၃၈ သန်း |

၈။ လုပ်ငန်းကို ပြည်တွင်းမှ ဝန်ထမ်း (၄၃၅)ဦးနှင့် ပြည်ပမှ ဝန်ထမ်း (၂)ဦးဖြင့် ဆောင်ရွက်လျက်ရှိပါသည်။

၉။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် လျှပ်စစ်စွမ်းအားဝန်ကြီးဌာနသို့ သဘောထား တောင်းခံခဲ့ရာ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်းမှ ဆက်လက်ဓါတ်အားပေးနိုင်ပါကြောင်း အကြောင်း ပြန်ကြားလာပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန် လိုအပ်သော အစီအမံများ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်းနှင့် CMP ချုပ်ခရငွေ များကို သတ်မှတ်ချက်များနှင့်အညီ တရားဝင် ခွင့်ပြုထားသည့် ငွေလဲလှယ်ရေးဌာနများတွင် ကျပ်ငွေဖြင့် လဲလှယ်ပြီး လုပ်ခများ ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိများ ပြုထားပါသည်။

၁၁။ ကုမ္ပဏီ မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။

၁၂။ <u>ဆုံးဖြတ်ရန်အချက်။</u>

(က) ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်မှ CMP စနစ်ဖြင့် အထည်ချုပ် လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

(ဂ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂အရ စီးပွားဖြစ်လုပ်ငန်း စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပေးရာတွင် CMP လက်ခ စား လုပ်ငန်းများစိစစ်ရေးကော်မတီမှ ထောက်ခံတင်ပြသည့် အလားတူ CMP လုပ်ငန်း ဟောင်းများ နည်းတူ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ တရားဝင် ခွင့်ပြုမိန့် ထုတ်ပေး သည့်နေ့မှ စ၍ ခံစား ခွင့်ပြုရန် သဘောတူ–မတူ။

၁၃။ <u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။</u>
ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

<u>ကုန်သွယ်မှု မူဝါဒ ကောင်စီ။</u>

လျှို့ဝှက်

ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၁။ | ဆွဲဆောင်မှု အအည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်<br>(Charming Garment Manufacturing Co., Ltd.) | ၁။ ဒေါ်နန်းစံဆိုင်<br>(မန်နေဂျင်းဒါရိုက်တာ)<br><br>၂။ ဦးစိုင်းခမ်းလှိုင်<br>(ဒါရိုက်တာ) | အမှတ် (၁၉/ဘီ)၊ (ဖြ–လွှာ)၊ ဗိုလ်ရာညွန့်လမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့။<br><br>အမှတ် (၁၉/ဘီ)၊ (ဖြ–လွှာ)၊ ဗိုလ်ရာညွန့်လမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့။ |

လျှို့ဝှက်

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၃၅၁/ ၂၀၀၂ (၄၄၇၇-ဃ)။
ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ ဇန်နဝါရီလ ၂၉ ရက်။

<u>ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ သို့ တင်ပြသည့်</u>
<u>အမှာစာ</u>

အကြောင်းအရာ။ <u>ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။</u>

၁။ မြန်မာကုမ္ပဏီဖြစ်သော ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (Charming Garments Manufacturing Co., Ltd.) သည်CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့် ရရှိရေးအတွက် CMP လက်ခစား လုပ်ငန်းများ စိစစ်ရေးကော်မတီမှ စိစစ်ထောက်ခံ တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၆-၁-၂၀၀၃) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁/၂၀၀၃) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ (၁၆-၁-၂၀၀၃)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၃/၂၀၀၃) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ မူအားဖြင့် သဘောတူပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်ကို <u>နောက်ဆက်တွဲ(၁)</u> အဖြစ် ပေးပို့ထားပါသည်။

၂။ လုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ (FEC ၈၄၀၉၈ အပါအဝင်) စုစုပေါင်း ကျပ် (၁၈.၅၁)သန်း ဖြစ်ပါသည်။ စက်ပစ္စည်း ကိရိယာများကို ပြည်တွင်းမှ ဝယ်ယူ အသုံးပြုထားပါသည်။

၃။ ယင်းလုပ်ငန်းကိုဆောင်ရွက်ရန်အတွက် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနထံမှ မန်နေးဂျင်း ဒါရိုက်တာဖြစ်သူ ဒေါ်နန်းစံဆိုင် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော အမှတ် (၃၈)၊ ဆိပ်ကမ်းသာလမ်း၊ စက်မှုဇုန်(၂)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းရှိမြေ (၁.၄၃၃) ဧက (၅၇၉၉.၁၅ စတုရန်းမီတာ)နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦကို ငှားရမ်း၍ လုပ်ငန်းဆောင်ရွက်လျက်ရှိပါသည်။

၄။ လုပ်ငန်းမှ ထုတ်လုပ်မှု၏ (၉၉) ရာခိုင်နှုန်းကို CMP စနစ်အရ ပြည်ပသို့ တင်ပို့မည်ဖြစ်ပြီး၊ ကျန် ပယ်ထည် Reject (၁) ရာခိုင်နှုန်းအား ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုများ မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ဒါဇင်) |
|---|---|---|
| ၁။ | Jacket | ၁၅၇၀၀ |
| ၂။ | Shirt | ၃၀၆၀၀ |
| ၃။ | Pant | ၂၅၄၀၀ |
| ၄။ | Skirt | ၃၀၆၀၀ |

၅။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၃)နှစ်နှင့် (၄)လ ဖြစ်ပြီး၊ အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန် ပေါ်နှုန်း (IRR) မှာ (၂၄.၉၉)ရာခိုင်နှုန်း ဖြစ်ပါသည်။

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ဝင်ငွေခွန် ကျပ် ၀.၅၆ သန်း

အမေရိကန်ဒေါ်လာ ၀.၀၅ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁.၃၈ သန်း

၇။ လုပ်ငန်းကို ပြည်တွင်းမှ ဝန်ထမ်း (၄၃၅)ဦးနှင့် ပြည်ပမှ ဝန်ထမ်း (၂)ဦးဖြင့် ဆောင်ရွက်လျက်ရှိပါ သည်။

၈။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် လျှပ်စစ်စွမ်းအားဝန်ကြီးဌာနသို့ သဘောထား တောင်းခံခဲ့ရာ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်းမှ ဆက်လက်ဓါတ်အားပေးနိုင်ပါကြောင်း အကြောင်း ပြန်ကြားလာပါသည်။

၉။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင်ထိန်းသိမ်းမှု၊ CMP ချုပ်ခရငွေများနှင့် ပတ် သက်၍ လမ်းညွှန်ချက်နှင့်အညီ လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိများပြုထားပါသည်။

၁၀။ ကုမ္ပဏီ မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်း လွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။

၁၁။ ဆုံးဖြတ်ရန်အချက်။

(က) ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်မှ CMP စနစ်ဖြင့် အထည်ချုပ် လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

(ဂ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ စီးပွားဖြစ်လုပ်ငန်း စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပေးရာတွင် CMP လက်ခစား လုပ်ငန်းများစိစစ်ရေးကော်မတီမှ ထောက်ခံတင်ပြသည့် အလားတူ CMP လုပ်ငန်းဟောင်းများ နည်းတူ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ တရားဝင် ခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှ စ၍ ခံစား ခွင့်ပြုရန် သဘောတူ–မတူ။

၁၂။ <u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။</u>
အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

<u>ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။</u>

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

# မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း

စာအမှတ်၊ ၄၆၄/ အသဖ(ထ)ရင်းနှီးမြှုပ်နှံမှု/ ၂၀၀၂။
ရက်စွဲ ၊ ၂၀၀၂ခုနှစ်၊ ဒီဇင်ဘာလ(၁၈)ရက်။

အကြောင်းအရာ။ ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃-၁၂-၂၀၀၂နေ့စွဲပါ စာအမှတ် - ရက-၁/မ-သဘောထား/ ၂၀၀၂(၃၆၃၇)(က)။

၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လုပ်ငန်းဆောင်ရွက်ခွင့်အဆိုပြုလွှာများနှင့် ပတ်သက်၍ ရည်ညွှန်းစာဖြင့် လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ သဘောထားမှတ်ချက် တောင်းခံလာပါသည်။

၂။ နောက်ဆက်တွဲပါ(က)(၁၂)ဦးမှာလုပ်ငန်းသစ်များမဟုတ်ဘဲတည်ဆောက်ပြီး လည်ပတ်နေသောစက်ရုံများဖြစ်၍ လျှပ်စစ်ဓာတ်အား ရရှိသုံးစွဲလျှက်ရှိပါသည်။ ဆက်လက် ဓာတ်အားပေးနိုင်ပါသည်။

၃။ နောက်ဆက်တွဲ(ခ) ပါ လုပ်ငန်းသစ်(၂) ဦးအားလည်း ဓာတ်အားဆက်သွယ်ပေးနိုင်ပါကြောင်း ပြန်ကြားအစီရင်ခံအပ်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဦးဆောင်ညွှန်ကြားရေးမှူး(ကိုယ်စား)
(ဒေါက်တာစန်းဦး-အင်ဂျင်နီယာချုပ်)


လိပ်စာ
၁၉၇ - ၁၉၉၊ ကြည့်မြင်တိုင်အောက်လမ်း၊
အလုံ၊ ရန်ကုန်မြို့။

ကြေးနန်း
လျှပ်စစ်အဖွဲ့

တယ်လီဖုန်း
၂၂၂၈၆၆

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းဆောင်ရွက်ခွင့် တင်ပြလာသည့် အဆိုပြုချက်များ

နောက်ဆက်တွဲ (က)

| စဉ် | ကုမ္ပဏီအမည်နှင့် အဆိုပြုသူအမည် | လုပ်ငန်းအမျိုးအစား | ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ | လျှပ်စစ်ဓာတ်အား လိုအပ်ချက် | လျှပ်စစ်ဓာတ်အားလက်ရှိသုံးစွဲနေမှု | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁။ | မြန်မာလက်မှုနှင့် စက်မှု ထရေဒင်းကုမ္ပဏီလီမိတက် ဦးအောင်မြင့် | CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း | ပဲခူးမြို့၊ ဗိုလ်ကုန်း ( ၁၈ ) ရပ်ကွက်၊ ဦးပိုင်အမှတ် (၃၈) ကွင်း အမှတ် (၆၄၁) | ၅၀၀- ကီလိုဝပ် | ၁၁၅ ကေဗွီအေထရန်စဖော်မာ(၁)လုံး တပ်ဆင်ဓာတ်အားသုံးစွဲနေပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |
| ၂။ | ချွတ်ခါးမင် (န်) နူဖက်ချားရင်း ကုမ္ပဏီလီမိတက် ဒေါ်ခင်သီဟန် | CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း | လှိုင်သာယာမြို့နယ်၊ စက်မှုဇုန် (၂)၊ ဆရာစံလမ်း၊ အမှတ် ( ၁၃၄ ) | ၆၀ HP | ၁၁၅ ကေဗွီအေထရန်စဖော်မာ(၁)လုံး တပ်ဆင်ဓာတ်အားသုံးစွဲနေပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |
| ၃။ | မြကျွန်းညီညီ စက်မှု လက်မှု ကုမ္ပဏီလီမိတက် ဦးကျော်ချစ်ရှိန် | CMPစနစ်ဖြင့်အထည်ချုပ်လုပ်ငန်း | ရန်ကင်းမြို့နယ်၊ တပ်မတော်မှတ်တမ်းရုံး ( ၁၅ ) တပ်မြေဝင်း | ၅၀၀- ကီလိုဝပ် | သီးခြားထရန်စဖော်မာ မရှိပါ။ တပ်ပိုင် ၁၁/၀.၄ကေဗွီ(၅၀၀)kVA Tr: မှ ဓာတ်အားပေးထားပါသည်။ ၃ သွင်၄ ကြိုး ၂၀/၆၀ အင်ပီယာမီတာ (မီတာအမှတ် XN - ၃၁၄၂၃ )ဖြင့် မြင်းကောင်ရေ (၃၀) သုံးစွဲခွင့်ပြုထားပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |
| ၄။ | ဆွဲဆောင်မှုအထည်ချုပ် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် ဦးအောင်ဝင်း | CMPစနစ်ဖြင့်အထည်ချုပ်လုပ်ငန်း | လှိုင်သာယာမြို့နယ်၊ စက်မှုဇုန် (၂)၊ ဆိပ်ကမ်းသာလမ်း၊ အမှတ် ( ၃၈ ) | ၁၀၀၀- ကီလိုဝပ် | ၁၁၅ကေဗွီအေထရန်စဖော်မာ(၁)လုံး တပ်ဆင်ဓာတ်အားသုံးစွဲနေပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |
| ၅။ | လင်းထက်စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် ဦးလင်းဇော်ဝင်း | CMPစနစ်ဖြင့်အထည်ချုပ်လုပ်ငန်း | အင်းစိန်မြို့နယ်၊ ဈေးကုန်းရပ်ကွက်၊ မီးရထားစက်ခေါင်းစက်ရုံဝင်း | ၁၀၀၀- ကီလိုဝပ် | စက်မှုသုံးမီတာ၂၀/၁၀၀ A (၂) လုံး တပ်ဆင်ဓာတ်အားသုံးစွဲနေပါသည်။ | ဓာတ်အားဆက်လက်ပေးနိုင်ပါသည်။ |

ဆွဲဆောင်မှု အထည်ချုပ်စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်

(လုပ်ငန်းအဟောင်း)

၏

အဆိုပြုချက်

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

**CHARMING GARMENTS MANUFACTURING CO.,LTD.**

CHAIRMAN

CHARMING GARMENTS MFG. CO., LTD.

No.............

Date...........

# CHARMING GARMENTS MFG. CO., LTD.

No. 38, SEIK KAN THAR STREET, [illegible] ZONE (2), YANGON, MYANMAR.
TEL : 95-1 [illegible] FAX : 95-1-684534

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်၊
ရန်ကုန်မြို့။

ရက်စွဲ ။ ။ ၂၀၀၃ ခုနှစ်၊ ဖေဖော်ဝါရီလ (  )ရက် ။

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ အဆိုပြုချက်ပေးပို့ခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ကျွန်မတို့ ၏ " ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်" ( Charming Garment Manufacturing Company Limited) " သည် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုံ(၂) ၊ ဆိပ်ကမ်းသာလမ်း၊ အမှတ် - ၃၈ တွင် နိုင်ငံတကာ အဆင့်မီအထည်ချုပ်စက်ရုံတည်ဆောက်၍လုပ်ငန်းဆောင်ရွက်ခွင့်ပြုနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

သို့ပါ၍ ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန်အတွက် အစိုးရအဖွဲ့အစည်းသို့ ဆက်လက်တင်ပြနိုင်ရန် အဆိုပြုလွှာ (၂၂)စုံ ပေးပို့တင်ပြလျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

ဒေါ်နန်းစံဆိုင်
(မန်နေးဂျင်းဒါရိုက်တာ)
ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း
ကုမ္ပဏီ လီမိတက်

NANG SAN SENG
MANAGING DIRECTOR
CHARMING GARMENTS MFG, CO., LTD.

CHAIRMAN

# CHARMING GARMENTS MFG. CO., LTD.

No. 38, SEIK KAN THAR STREET, HLAING THARYAR INDUSTRY ZONE (2), YANGON, MYANMAR.
TEL : 95-1-247350, 684719 FAX : 95-1-684534

CHARMING GARMENTS MANUFACTURING CO., LTD.
No................
Date............

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်၊
ရန်ကုန်မြို့။

ရက်စွဲ ။ ။ ၂၀၀၃ ခုနှစ်၊ဇန်နဝါရီလ ( ၉ )ရက် ။

အကြောင်းအရာ ။ ။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ အဆိုပြုချက်ပေးပို့ခြင်း။</u>

အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ကျွန်မတို့ ၏ " ဆွဲဆောင်မှု အထည်ချုပ်စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်" ( Charming Garment Manufacturing Company Limited) " သည် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုံ(၂) ၊ ဆိပ်ကမ်းသာလမ်း၊ အမှတ် - ၃၈ တွင် နိုင်ငံတကာ အဆင့်မီအထည်ချုပ်စက်ရုံတည်ဆောက်၍လုပ်ငန်းဆောင်ရွက်ခွင့်ပြုနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

သို့ပါ၍ ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန်အတွက် အထက်အဖွဲ့အစည်းသို့ အဆိုပြုလွှာ (၂၇)စုံ ပေးပို့ တင်ပြလျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

ဒေါ်နန်းစံဆိုင်
(မန်နေးဂျင်းဒါရိုက်တာ)
ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း
ကုမ္ပဏီ လီမိတက်

NANG SAN SENG
MANAGING DIRECTOR
CHARMING GARMENTS MFG. CO., LTD

CHAIRMAN **CHARMING GARMENTS MFG. CO., LTD.**
No. 38, SEIK KAN THAR STREET, HLAING THARYAR INDUSTRY ZONE (2), YANGON, MYANMAR
TEL : 95-1-247350, 684719 FAX : 95-1-684534

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်၊
ရန်ကုန်မြို့။

ရက်စွဲ ။ ။ ၂၀၀၂ ခုနှစ်၊နိုဝင်ဘာလ (၂၈)ရက် ။

အကြောင်းအရာ ။ ။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ အဆိုပြုချက်ပေးပို့ခြင်း။</u>

အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ကျွန်မတို့ ၏ " ဆွဲဆောင်မှု အထည်ချုပ်စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်" ( Charming Garment Manufacturing Company Limited) " သည် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုံ(၂) ၊ ဆိပ်ကမ်းသာလမ်း၊ အမှတ် - ၃၈ တွင် နိုင်ငံတကာ အဆင့်မီအထည်ချုပ်စက်ရုံတည်ဆောက်၍လုပ်ငန်းဆောင်ရွက်ခွင့်ပြုနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

သို့ပါ၍ ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုလွှာ (၁၂)စုံ ပေးပို့တင်ပြလျှောက်ထားအပ်ပါသည်။

မှန်ကန်စွာဖြင့်

(signature)
ဒေါ်နန်းစံဆိုင်
(မန်နေးဂျင်းဒါရိုက်တာ)
ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း
ကုမ္ပဏီ လီမိတက်

၁၀၉
28-11-02

**CHAIRMAN** **CHARMING GARMENTS MFG. CO., LTD.**
No. 38, SEIK KAN THAR STREET, HLAING THARYAR INDUSTRY ZONE (2), YANGON, MYANMAR.
TEL : 95-1-247350, 684719 FAX : 95-1-684534

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်၊
ရန်ကုန်မြို့။

ရက်စွဲ ။၂၀၀၂ခုနှစ်၊နိုဝင်ဘာလ (၂၈) ရက်။

အကြောင်းအရာ။ ။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂နှင့် ၁၃ တို့အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့် များ လျှောက်ထားခြင်း။</u>

အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ နှင့် အညီ ဖွဲ့စည်းတည်ထောင်ထားသည့် " ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် " သည် ရန်ကုန်တိုင်း၊လှိုင်သာယာမြို့နယ်၊ စက်မှုဇုံ (၂) ၊ ဆိပ်ကမ်းသာလမ်း၊ အမှတ် – ၃၈ ရှိ မြေဧက (၁.၄၃၃)ဧက (၆၂,၄၀၀ စတုရန်းပေ)တွင် နိုင်ငံတကာအဆင့်မီ အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခြင်း ဖြစ်ပါသည်။

" ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် " သည် အထည်ချုပ်စက်ရုံ အတွက် လိုအပ်မည့်နိုင်ငံတကာအဆင့်အတန်းမီ စက်ကိရိယာပစ္စည်းများကို ပြည်တွင်းမှ ဝယ်ယူတပ်ဆင်ပြီး အရင်းအနှီး အဖြစ်ထည့်ဝင်မည် ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်းအတွက်ရင်းနှီးမြှုပ်နှံငွေကျပ်(၁၈၅.၀၅)သိန်းတွင်၊စက်ကိရိယာပစ္စည်းများကျပ် (၅.၀၅)သိန်း ( US $- 84,098 အပါအဝင် )၊ မော်တော်ယာဉ်တန်ဖိုးကျပ် (၉၅) သိန်း၊ ပရိဘောဂ နှင့် လုပ်ငန်းသုံးပစ္စည်း ကျပ်(၈၅ . ၀၀)သိန်း တို့ဖြင့်ထည့်ဝင်ရင်းနှီးမည် ဖြစ်ပါသည်။ ထွက်ရှိလာသော အဝတ်အထည်များ ၏ ၉၉ % ကို C.M.P. စနစ်အရ ပြည်ပသို့ တင်ပို့မည် ဖြစ်ပြီး ပြည်တွင်း၌ ၁% ရောင်းချမည်ဖြစ်ပါသည်။

အထည်ချုပ် စက်ရုံတည်ထောင်ခြင်းဖြင့် မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင် အသစ်များ ပေါ်ပေါက် လာမည်ဖြစ်ပြီးနိုင်ငံခြားဝင်ငွေရရှိကာနည်းပညာအသစ်များလည်း ရရှိလာနိုင်မည်ဖြစ်ပါသည်။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများရရှိစေရန်အတွက်လည်းကောင်း၊ နိုင်ငံခြားငွေများရရှိနိုင်ရန် အတွက် လည်းကောင်း၊မြန်မာနိုင်ငံသားများ အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာစေရန်အတွက်လည်းကောင်း၊မြန်မာနိုင်ငံ၏ စီးပွါးရေး ဖွံ့ဖြိုးတိုးတက်လာစေရန် အတွက်လည်းကောင်း၊ ကျွန်တော်များလျှောက်ထားခြင်း ကို လက်ခံစဉ်းစား ပေးပါရန် နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၁၂နှင့်၁၃တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့် တို့ကိုလည်း ခံစားခွင့်ပြုပါရန် လျှောက်ထား အပ်ပါသည်။

CHAIRMAN **CHARMING GARMENTS MFG. CO., LTD.**
No. 38, SEIK KAN THAR STREET, HLAING THARYAR INDUSTRY ZONE (2), YANGON, MYANMAR.
TEL : 95-1-247350, 684719 FAX : 95-1-684534

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်၊
ရန်ကုန်မြို့။

ရက်စွဲ။ ၂၀၀၂ ခုနှစ်၊နိုဝင်ဘာလ(၂၈)ရက်။

အကြောင်းအရာ။ ။ <u>C. M. P စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထည်အမျိုးမျိုးချုပ်လုပ်သည့် လုပ်ငန်းဆောင်ရွက်ခြင်း နှင့် ပတ်သက်၍ ကတိဝန်ခံချက် တင်ပြခြင်း။</u>

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ " ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် " မှနိုင်ငံတကာအဆင့်မီ အထည်ချုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားရာတွင် ခွင့်ပြုမိန့်ရရှိနိုင်ရေးအတွက် အောက်ပါတို့ကိုဝန်ခံကတိပြုအပ်ပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီးနိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိကြောင်းဝန်ခံကတိပြုပါသည်။

(ခ) ဤစက်ရုံမှထွက်ရှိလာသော ကုန်ချောပစ္စည်းများကို **C . M . P** စနစ်ဖြင့် ပြည်ပ သို့ ၉၉ % ပြန်လည်တင်ပို့ သွားမည်ဖြစ်ပါသည်။

(ဂ) နိုင်ငံတော်အစိုးရမှမြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကိုလိုက်နာဆောင်ရွက်ပါမည်ဟုကတိပြုပါသည်။

(ဃ) ထို့အပြင်ကျွန်တော်များ ကုမ္ပဏီအနေဖြင့်လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွါးစေရန်အတွက် လိုအပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့်ပြည်ထောင်စုမြန်မာနိုင်ငံတော် ၏ နည်းဥပဒေ ၊ စည်းမျဉ်းစည်းကမ်း၊လုပ်ထုံးလုပ်နည်းများ နှင့် အညီပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန်အကောင်အထည်ဖေါ်ဆောင်ရွက်သွားမည်ဟုဝန်ခံကတိပြုပါသည်။

(င) မီးဘေးကြိုတင်ကာကွယ်မှုများပြုလုပ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

(စ) " ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် " မှ **C . M . P** စနစ်ဖြင့် အထည်ချုပ် လုပ်ငန်းဆောင်ရွက်မှုအတွက် နိုင်ငံခြားငွေဖြင့်ရရှိသော အခကြေးငွေများကို မြန်မာနိုင်ငံခြားကုန်သွယ်မှုဘဏ် နှင့် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေးဘဏ် ရှိ ငွေစာရင်းသို့မပျက်မကွက်ပေးသွင်းမည်ဖြစ်ကြောင်း၊ယင်းသို့ပေးသွင်းထားသည့်နိုင်ငံခြားငွေများကို နိုင်ငံတော်မှခွင့်ပြုထားသည့်ငွေလဲလှယ်ရေးဌာန **Money Changer Counter** တွင်လဲလှယ်ပြီး မိမိလုပ်ငန်းအတွက်အလုပ်သမားများ၏ လုပ်အားခများအား ပေးဆောင်ရမည်ကို သိရှိလိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဆ) " ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် " အနေဖြင့် ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေအရ ပြည်နယ်တိုင်းဒေသကြီးစက်မှုကြီးကြပ်ရေးနှင့် လုပ်ငန်းမှတ်ပုံတင်ရေး ညွှန်ကြားမှုဦးစီးဌာနတွင်မှတ်ပုံတင်ထားရှိပြီးဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဒေါ်နန်းစံဆိုင်

(မန်နေးဂျင်းဒါရိုက်တာ)

ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း

ကုမ္ပဏီ လီမိတက်

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ
ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်
(ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (၈) နှင့် ပုဒ်မ ၈)

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ ။၂၀၀၂ခုနှစ်၊နိုဝင်ဘာလ(၂၈)ရက်။

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံလိုပါသဖြင့်ခွင့်ပြုမိန့်ထုတ်ပေးပါရန်အောက်ပါ အချက်အလက်များဖော်ပြ၍ လျှောက်ထား အပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ –

| | |
|---|---|
| (က)အမည် | – ဒေါ်နန်းစံဆိုင် |
| (ခ) အဖအမည် | – ဦးစိုင်းဆွေ |
| (ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | – ၁၂/ကတတ(နိုင်) – ၀၂၁၉၁၂ |
| (ဃ)နေရပ်လိပ်စာ | –အမှတ်–၁၉(ဘီ)၊ ဗိုလ်ရာညွန့်လမ်း၊ဒဂုံမြို့နယ်၊ရန်ကုန်မြို့။ |
| (င) လူမျိုး၊ဘာသာ | – ရှမ်း၊ ( ဗုဒ္ဓဘာသာ ) ။ |
| (စ) အဖွဲ့အစည်းအမည် | – ဆွဲဆောင်မှု အထည်ချုပ်စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် |
| (ဆ)လုပ်ငန်းအမျိုးအစား | – အထည်ချုပ်လုပ်ငန်း |
| (ဇ) အဖွဲ့အစည်းတည်နေရာအရပ် | – အမှတ်–၃၈၊ဆိပ်ကမ်းသာလမ်း၊ စက်မှုဇုံ(၂)၊လှိုင်သာယာမြို့နယ်၊ရန်ကုန်မြို့။ |

၂ ။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏

| | |
|---|---|
| (က) အမည် | ------------------------ |
| (ခ) အဖအမည် | ------------------------ |
| (ဂ) နိုင်ငံသား / အမျိုးသားမှတ်ပုံတင်အမှတ် | ------------------------ |
| (ဃ) နေရပ်လိပ်စာ | ------------------------ |
| (င) လူမျိုးဘာသာ | ------------------------ |
| (စ) အဖွဲ့အစည်း | ------------------------ |
| (ဆ) လုပ်ငန်းအမျိုးအစား | ------------------------ |
| (ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် | ------------------------ |

( နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ခု ထက်ပိုပါကသီးခြားစာရွက် တွင် ဖော်ပြပူးတွဲရန် )

၃။ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား -

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း -C.M.P စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ။

(ခ) ဝန်ဆောင်မှုလုပ်ငန်း - ------------------

(ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှု အမျိုးအစားဖော်ပြရန်)

၄။လုပ်ကိုင်မည့်စီးပွားရေးပုံစံ

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

--------------------လီမိတက်ကုမ္ပဏီ---------------

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း ။

------------- မရှိပါ ------------------------------

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့တို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း ။

------------- မရှိပါ ------------------------------

၅။ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန် .

(က) တစ်ဦးတည်းပိုင် --------------------------------

(ခ) ဖက်စပ် / အစုစပ်လုပ်ငန်း --------------------------------

(ဂ) လီမိတက်ကုမ္ပဏီ ဆွဲဆောင်မှု အထည်ချုပ် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်
(Charming Garment Manufacturing Company Limited)

(ဃ) သမဝါယမအသင်း - -------------------------

(အများနှင့်အသက်ဆိုင်သည့်ကုမ္ပဏီ/ အများပိုင်ကုမ္ပဏီဟုဖော်ပြ၍ထည့်ဝင်မည့်မ,တည်ငွေရင်းအမျိုးအစား၊ စီမံခန့်ခွဲသူ/စီမံခန့်ခွဲမည့်သူများ၏အမည်၊နေရပ်လိပ်စာများနှင့်ရာထူးတို့ကိုပူးတွဲတင်ပြရန်)နောက်ဆက်တွဲ (၁)

၆။ ဖက်စပ် / အစုစပ်လုပ်ငန်းဖြစ်ပါက -

(က) အစုစပ်တို့က ထည့်ဝင်မည့်အစုငွေ အချိုးအစားနှင့်ပမာဏ

(ခ) အကျိုးအမြတ်ခွဲဝေမည့်အမျိုးအစား

(ဂ) အစုဝင်များ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ

( နေရာမလုံလောက်က သီးခြားစာရွက်ဖြင့်ဖော်ပြရန် )

၇။ သမဝါယမအသင်း / လီမိတက်ကုမ္ပဏီဖြစ်ပါက -

(က) ခွင့်ပြုမတည်ငွေရင်း - ကျပ် ၁၀၀,၀၀၀,၀၀၀
(ကျပ်သန်းတစ်ရာတိတိ)

(ခ) အစုရှယ်ယာအမျိုးအစား - တစ်စုလျှင် ကျပ် ၁၀,၀၀၀
( ကျပ်တစ်သောင်းတန် )
သာမန်အစုရှယ်ယာ ၁၀,၀၀၀

(ဂ) အစုရှယ်ယာရှင်များကထည့်ဝင်မည့်အစုရှယ်ယာ ပမာဏ - ကျပ် ၁၈,၅၁၀,၀၀၀/-(အစု-၁၈၅၁)

